မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဂျီဘီအက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက် မှ ခေတ်မီလယ်ယာသုံး စက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များ ဖော်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၉-၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၉-၂-၂၀၁၆ | ၁၁-၃ -၂၀၁၆ | |
| | ( ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၁၉-၂-၂၀၁၆ | ၉-၃ -၂၀၁၆ | |
| | ( ဂ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန | ၁၉-၂-၂၀၁၆ | ၃-၃-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၇/၂၀၁၆)သို့ တင်ပြခြင်း | ၁၆-၂-၂၀၁၆ | ၂၄-၂-၂၀၁၆ | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်းနှင့် အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၇ /၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၂၄-၂-၂၀၁၆ | - | |
| ၅ | ကုမ္ပဏီမှ သဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်ချက်များကို ပြန်လည် တင်ပြလာခြင်း | ၁၆-၃-၂၀၁၆ | - | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ ပေးပို့ခြင်း | | ၁၇-၃-၂၀၁၆ | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၁၀/၂၀၁၆ | |
| | စုစုပေါင်းကြာမြင့်ရက် | (၄၅) ရက် | | |

အကြောင်းအရာ။ ဂျီ ဘီ အက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်မှ ခေတ်မီလယ်ယာသုံး စက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များ ဖော်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြ လာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဂျီ ဘီ အက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက် (GBS Agriculture Services Public Co., Ltd.) |
| | လုပ်ငန်း အဆိုပြုသူအမည် | - **ဦးကျော်စိုး (အဘ- ဦးလှိုင်လွေ)** |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက် |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ခေတ်မီ လယ်ယာသုံး စက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ခြင်း ဝန်ဆောင်မှု လုပ်ငန်းများ |
| ၂။ | လုပ်ငန်းတည်နေရာ | - ဧရာဝတီ တိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်း မြို့နယ်၊ သစ်ဆိန့်ကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၃၇၄- သစ်ဆိန့်ကုန်းကွင်း)၊ ဦးပိုင်အမှတ် (၂၇၅၊ ၂၇၆) |
| | မြေအကျယ်အဝန်း | - ၄ ဧက |
| ၃။ | မြေပိုင်ရှင် | - ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီလီမိတက် |
| | နှစ်စဉ်မြေငှားရမ်းခ | - ငှားရမ်းခမယူ ဘဲမေတ္တာဖြင့် ငှားရမ်းခြင်းဖြစ်ပါသည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၅,၀၀၀.၀၀ သန်း** (US$ ၄.၀၄၆ သန်း အပါအဝင်) |
| | ငွေပမာဏ | - ကျပ် ၁၂၇.၁၉၅ သန်း |
| | စက်ပစ္စည်းကိရိယာများ | - ကျပ် ၄,၆၂၅.၁၉၀ သန်း (US$ ၃.၈၅၄ သန်း အပါအဝင်) |
| | လုပ်ငန်းသုံးယာဉ် | - ကျပ် ၂၂၉.၉၅၆ သန်း (US$ ၀.၁၉၂ သန်း အပါအဝင်) |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုး ပမာဏ | - ကျပ် ၁၇.၆၅၉ သန်း |
| ၆။ | ဝန်ထမ်းအင်အား | - **၁၃၃ ဦး** |
| | ပြည်တွင်း | - ၁၃၃ ဦး အနိမ့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၁၀၈,၀၀၀<br>အမြင့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၄၅၀,၀၀၀ |
| ၇။ | ဝန်ဆောင်မည့် နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ်) | - ကျပ် ၂,၈၃၇.၅၀ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - ကျပ် ၂,၆၇၄.၆၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၁၆၂.၈၅ သန်း |

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဌမနှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br><br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br>- ကျပ် ၁၀၁.၅၈ သန်း<br>- ကျပ် ၁၄၁.၈၈ သန်း<br><br>- ၇ နှစ်၊ ၁၁ လ<br>- ၁၂.၇၆ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၄,၀၅၆ Unit |
| ၁၁။ | ငွေကြေးအထောက်အထား | - ကုမ္ပဏီ အမည်ဖြင့် မြန်မာနိုင်ငံသားများ ဘဏ်တွင် ၁၄-၁၂-၂၀၁၅ ၌ ကျပ် ၃၄၅.၇၈၀,၀၀၀ ရှိကြောင်း တင်ပြ ထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် စည်းကမ်းချက်များ ချမှတ် ထားပြီး ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားကြောင်း၊ မီးဘေးလုံခြုံရေး စီမံချက်၊ အရေးပေါ်ကာကွယ် တားဆီးမှု စီမံချက်များ ပါဝင် သည့် အစီရင်ခံစာကို တင်ပြထား ပါသည်။ |

ကုမ္ပဏီအမည် - ဂျီ ဘီ အက်(စ်)လယ်ယာ ဝန်ဆောင်မှု လုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်

အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ခေတ်မီလယ်ယာသုံး စက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်း ခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ခြင်း ဝန်ဆောင်မှု လုပ်ငန်းများ

တည်နေရာ - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်း ကျေးရွာအုပ်စု၊ ကွင်း အမှတ်(၃၇၄- သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ်( ၂၇၅၊ ၂၇၆) ရှိဧရိယာ(၄)ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၅,၀၀၀.၀၀ သန်း ဖြစ်ပြီး၊ US$ ၄.၀၄၆ သန်း ပါဝင်ပါသည်။

ဝန်ဆောင်မှုပေးမည့်စနစ် - ပြည်တွင်းဝန်ဆောင်မှု ၁၀၀%

လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ်

အရင်းကြေကာလ - ၇ နှစ် ၁၁ လ

IRR - ၁၂. ၇၆ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည် -

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ (တစ်နှစ်) | ကျပ် ၁.၆၈ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၄၂.၇၆ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၄၁၃.၆၆ သန်း | ကျပ် ၅၀၇.၉၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၇၀၉.၄၀ သန်း |
| ၆ | လောင်စာဆီ | | ကျပ် ၃,၂၂၉.၆၀ သန်း |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁.၅၀ သန်း |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် သိန်း (၂၀) ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၈၈) ဦး |
| ၉ | မြေနှင့် အဆောက်အဦးငှားရမ်းခရငွေ | | မြေပိုင်ရှင်မှ ကုမ္ပဏီသို့ မြေငှားရမ်းခ မယူဘဲ မေတ္တာဖြင့် ငှားရမ်းခြင်း ဖြစ်ပါကြောင်း စာချုပ်(မူကြမ်း)တွင်ဖော်ပြထားပါသည်။ |
| ၁၀ | CSR ( ၁ %) | | ကျပ် ၈.၁၅ သန်း |
| ၁၁ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၃၃ ဦး<br>ပြည်တွင်းလုပ်သား (၁၃၃) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၆၅၈.၁၀သန်း** | **ကျပ် ၄,၄၅၇.၇၅ သန်း** |
| | | **၁း၇** | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(အ)/မ-၀၀၆/၂၀၁၆( ၂၁၄ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၂ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ဂျီ ဘီ အက်(စ်)လယ်ယာ ဝန်ဆောင်မှု လုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်မှ ခေတ်မီလယ်ယာသုံး စက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်း ခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ခြင်း ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ ဂျီဘီအက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၇၄- သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ်( ၂၇၅၊ ၂၇၆) ရှိဧရိယာ(၄)ဧကတွင် ခေတ်မီလယ်ယာသုံးကိရိယာများဖြင့် စိုက်ပျိုးရန်မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြု ပါရန် ဦးကျော်စိုး (အဘ-ဦးလိခိုင်လွေ)မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီလီမိတက် နှင့် မြေငှားရမ်းသူ ဂျီ ဘီ အက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)၊ လုပ်ငန်း တည်နေရာပြ မြေပုံ နှင့် ဂျီ ဘီ အက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်၏ မှတ်ပုံတင်လက်မှတ်၊ ပုံစံ(၆/၂၆)၊ သင်းဖွဲ့ မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း တို့ကို ပူးတွဲတင်ပြ ထားပါသည်။

၃။ မြေပိုင်ရှင်ဂွတ်(ဒ်)ဘရားသား(စ်) ကုမ္ပဏီလီမိတက်သည် ဂျီဘီအက်(စ်) လယ်ယာဝန်ဆောင်မှု လုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သို့ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှ ၄ ဧကအတွက် နှစ်စဉ် မြေငှားရမ်းခအားငှားရမ်းခ မယူဘဲ မေတ္တာဖြင့် ငှားရမ်းခြင်း ဖြစ်ပါကြောင်း မြေငှားစာချုပ် (မူကြမ်း)တွင် ဖော်ပြထား ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဆောင်ရွက်မည် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ တစ်နှစ် ကြာမြင့်မည် ဖြစ်ပါသည်။ ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးချိန်မှ စတင်၍ လုပ်ငန်း စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၅,၀၀၀.၀၀ သန်း ဖြစ်ပြီး၊ US$ ၄.၀၄၆ သန်း ပါဝင်ပါသည်။ ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

| | ကျပ်(သန်း) |
|---|---|
| ငွေပမာဏ | ၁၂၇.၁၉၅ သန်း |
| စက်ပစ္စည်းကိရိယာများ | ၄,၆၂၅.၁၉၀ သန်း (US$ ၃.၈၅၄ သန်း အပါအဝင်) |
| လုပ်ငန်းသုံးယာဉ် | ၂၂၉.၉၅၆ သန်း (US$ ၀.၁၉၂ သန်း အပါအဝင်) |
| ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ တန်ဖိုး ပမာဏ | ၁၇.၆၅၉ သန်း |
| **စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု** | **၅,၀၀၀.၀၀၀ သန်း (US$ ၄.၀၄၆ သန်း အပါအဝင်)** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း ၁၃၃ဦးခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံး ဝန်ထမ်း၏ လစာမှာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၄၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းသည် ပြည်တွင်း၌ ၁၀၀ % ဝန်ဆောင်မှု ပေးမည်ဖြစ်ပါသည်။ ကုမ္ပဏီမှ ပုံမှန်နှစ် ၆ နှစ်မြောက် ဝန်ဆောင်မှု ပေးမည့် နှုန်းထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | **ဝန်ဆောင်မည့် ဧက** | **တစ်ဧက ဝန်ဆောင်ခ နှုန်း (ကျပ်)** | **ဝင်ငွေ ကျပ် (သန်း)** |
|---|---|---|---|
| Land Preparation | ၇,၅၀၀ | ၄၃,၀၀၀ | ၃၂၂.၅၀ |
| Transplantation | ၅၀၀ | ၅၈,၀၀၀ | ၂၉.၀၀ |
| Harvesting | ၅၀,၀၀၀ | ၄၈,၀၀၀ | ၂,၄၀၀.၀၀ |
| Landscaping | ၂,၀၀၀ | ၄၃,၀၀၀ | ၈၆.၀၀ |
| | | | ၂,၈၃၇.၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂,၈၃၇.၅၀ |
| ( ခ ) | အသုံးစရိတ် | ၂,၆၇၄.၆၅ |
| ( ဂ ) | အသားတင်အမြတ် | ၁၆၂.၈၅ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်၆နှစ်မြောက်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၀၁.၅၈ သန်းနှင့် ကုန်သွယ် လုပ်ငန်းခွန် ကျပ် ၁၄၁.၈၈ သန်း ရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၁၁လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၂.၇၆ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) **ဧရာဝတီဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၃၇၄- သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ်(၂၇၅၊၂၇၆)သည် လက်ရှိမြို့ပြ စီမံကိန်းအား ထိခိုက်မှု မရှိနိုင်သလို နောင်ပြု လုပ်မည့် မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှု မရှိနိုင်ပါကြောင်း၊ ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း၊ ဒေသခံများ၏လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ တိုင်းဒေသကြီး အစိုးရအနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့် အညီ တိုင်းဒေသကြီးအတွင်းရှိဒေသခံ ပြည်သူ အလုပ်အကိုင် အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေရေး တို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိရာ ယခုအဆိုပြုလုပ်ငန်းသည် တိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့် လုပ်ငန်းဖြစ်ပါသဖြင့် ထောက်ခံပါကြောင်း ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ - က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**မှ အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာ တွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ယူပူးပေါင်းဆောင်ရွက်မှုများ (Corporate Social Responsibility - CSR) အတွက် အသားတင် အမြတ်ငွေ၏ (၁%)ကို အသုံးပြုခြင်း တို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်၊ လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အားရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ သဘောထားမှတ်ချက် ပြန်ကြား လာပါသည်။**ကုမ္ပဏီမှ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management

Plan- EMP) အစီရင်ခံစာအား ရေးဆွဲပြီး ပြန်လည် တင်ပြမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ **နောက်ဆက်တွဲ - ခ**

(ဂ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းကိစ္စနှင့်ပတ်သက်၍ အဆိုပြုတင်ပြလာသော မြေနေရာသည် လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့်ရရှိထားပြီးဖြစ်သည့် ခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်ရန် ဖြစ်ကြောင်းနှင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားခဲ့ပါသည်။

**နောက်ဆက်တွဲ - ဂ**

၁၁။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြန်မာနိုင်ငံသားများ ဘဏ်တွင် ၁၄-၁၂-၂၀၁၅ ၌ ကျပ် ၃၄၅.၇၈၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ မီးဘေး အန္တရာယ်အတွက် လိုအပ်သော စီမံထားမှု၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက် သွားမည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းနှင့် CSR အဖြစ် အသားတင်အမြတ်၏ ၁ ရာခိုင်နှုန်းကို ကျခံသုံးစွဲသွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအတွက် ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်တို့အား တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့်( သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ (က) ယာဉ်၊ စက်ယန္တရား ငှားရမ်းသည့် ဝန်ဆောင်မှု လုပ်ငန်းများသည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၉ ရက်နေ့တွင် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာ စာအမှတ် ၅၁/၂၀၁၄ ၏ ထုတ်ပြန်ထားသည့် အကောက်ခွန်ကင်း လွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် မပေးသော လုပ်ငန်းများအုပ်စုတွင် ပါဝင်ပါသည်။

(ခ) အဆိုပြုချက်ပါ Transporter များအား အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းရန် ကိစ္စနှင့် စပ်လျဉ်း၍ ရိတ်သိမ်း ခြွေလှေ့စက်များကို စပါးရိတ်သိမ်းမည့် နေရာ တစ်နေရာမှ တစ်နေရာသို့ ရွှေပြောင်းသယ်ဆောင်ရန်အတွက် Transporter များကို

အသုံးပြုရခြင်း ဖြစ်ပါကြောင်း၊ Transportation Charges ကောက်ခံခြင်း မရှိဘဲ လုပ်ငန်းလွယ်ကူမြန်ဆန်ရန် အသုံးပြုခြင်းသာဖြစ်သည့်အတွက် အခွန်အကောက် ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဂျီဘီအက် (စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက် မှ ခေတ်မီလယ်ယာသုံး ကိရိယာများဖြင့် စိုက်ပျိုးရန်မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာ မြေကွက်များဖော်ခြင်း ဝန်ဆောင်မှု လုပ်ငန်းများ ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀/၃ - ၁/အစိုးရ(ဧရာဝတီ)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ မတ်လ ၁၁ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉. ၂. ၂၀၁၆ ရက်စွဲပါစာအမှတ် ရအာ-၅(အ)/မ-၀၀၆/၂၀၁၆(၀၇၂၈)

၁။ ဂျီ ဘီ အက်(စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်းအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၇၄-သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ် (၂၇၅၊၂၇၆)တွင် ခေတ်မှီလယ်ယာသုံးစက်ကိရိယာများဖြင့် စိုက်ပျိုးရန်မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ထုတ်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဦးကျော်စိုး(အဘ-ဦးလှိုင်လွေ)မှ အဆိုပြုတင်ပြလာမှုအပေါ် စိစစ်ပြီး သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၇၄-သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ် (၂၇၅၊၂၇၆)သည် လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလို နောင်ပြုလုပ်မည့်မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်

ဂျီ ဘီ အက်(စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်းအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ ယခုအဆိုပြုလာသည့် ခေတ်မှီလယ်ယာသုံးစက်ကိရိယာများဖြင့်

စိုက်ပျိုးရန်မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များ ဖော်ထုတ်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများ ပေါ်ပေါက်လာပါက ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ

အဆိုပြုလျှောက်ထားလာသည့်နေရာတွင် ဂျီ ဘီ အက်(စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်းအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာဟုတ်/မဟုတ်

အဆိုပြုတင်ပြထားသည့်မြေနေရာသည် သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်ခြင်းမရှိသောကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်

တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင်အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် ဂျီ ဘီ အက်(စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်းအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ မေတ်မှီလယ်ယာသုံးစက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များ ဖော်ထုတ်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများသည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့် လုပ်ငန်းဖြစ်ပါသဖြင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများအပေါ် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

( သိန်းအောင် )
ဝန်ကြီးချုပ်

မိတ္တူကို

ဂျီ ဘီ အက်(စ်)လယ်ယာဝန်ဆောင်မှုလုပ်ငန်းအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်
လှည့်လည်စာတွဲ/ရုံးလက်ခံ

DNM21/Letter

M4 - 189
9.3.16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ ၀၁( ၇၈ /၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **G.B.S Agriculture Services Public Co.,Ltd မှ ခေတ်မီလယ်ယာသုံးစက်ကိရိယာများဖြင့်စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၀၆/ ၂၀၁၆(၀၇၂-ဃ)

၁။ G.B.S Agriculture Services Public Co.,Ltd မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၇၄-သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ်(၂၇၅၊ ၂၇၆)၊ စုစုပေါင်းအကျယ်အဝန်း(၄)ဧကတွင် ခေတ်မီလယ်ယာသုံးစက်ကိရိယာများဖြင့် စိုက်ပျိုးရန်မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များဖော်ထုတ်ခြင်း၊ ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသောအသားတင်အမြတ်ငွေ၏ (၁%)ကို လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု( Corporate Social Responsibility – CSR ) လုပ်ငန်းများတွင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်

ပတ်သက်၍ ပတ်ဝန်းကျင်လေထု၊ မြေထု၊ ရေထုညစ်ညမ်းမှုမရှိစေရေးနှင့် အသံဆူညံမှုမဖြစ်ပေါ်အောင်တတ်နိုင်သမျှ ထိန်းသိမ်းဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ လမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ G.B.S Agriculture Services Public Co.,Ltd မှ ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရာတွင် အသုံးပြုမည့် ယာဉ်ယန္တရားများထားရှိမည့်နေရာအားတည်ဆောက်ခြင်းလုပ်ငန်းများမှထွက်ရှိလာမည့် မြေသားအမှုန်အမွှား၊ ဖုန်မှုန့်များကြောင့်လေထုနှင့်မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းသုံးစက်နှင့်ယာဉ်ယန္တရားများ၏ဆူညံသံကြောင့် အသံညစ်ညမ်းခြင်း၊ စွန့်ပစ်အရည်၊ စွန့်ပစ်အစိုင်အခဲများဖြစ်သည့် အမဲဆီ၊ အင်ဂျင်ဝိုင်နှင့်ဖိတ်စင်စက်သုံးဆီများကြောင့် ပတ်ဝန်းကျင်မြေထုနှင့် ရေထုညစ်ညမ်းခြင်း၊ စက်သုံးဆီ၊ ချောဆီများသိုလှောင်ထားရှိခြင်းကြောင့် မီးဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်း၊ ယာဉ်ယန္တရားများမောင်းနှင်သွားလာမှုများကြောင့် အများပြည်သူများ၏ ဥယျာဉ်ခြံမြေလယ်ယာများထိခိုက်ပျက်စီးစေနိုင်ခြင်း၊ စိုက်ပျိုးရေးလုပ်ငန်းခွင်သုံးပိုးသတ်ဆေးများပမာဏပိုမိုသုံးစွဲခြင်း၊ တရားမဝင်ပိုးသတ်ဆေးများ အသုံးပြုခြင်းတို့ကြောင့် လူနှင့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ G.B.S Agriculture Services Public Co.,Ltd မှ ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှုများ (Corporate Social Responsibility–CSR)အတွက် အသားတင်အမြတ်ငွေ၏ (၁%)ကို အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့်

လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့်စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP )အားရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)

14 - 163
1.3.16

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ G. B. S (၁၀၅ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉.၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၅(အ)/မ-၀၀၆/၂၀၁၆ (၀၇၂-၁)

၁။ ဂျီ ဘီ အက်(စ်) လယ်ယာဝန်ဆောင်မှုလုပ်ငန်းများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက် မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ကျောင်းကုန်းမြို့နယ်၊ သစ်ဆိမ့်ကုန်းကျေးရွာအုပ်စု ကွင်းအမှတ် (၃၇၄-သစ်ဆိမ့်ကုန်းကွင်း)၊ ဦးပိုင်အမှတ်(၂၇၅၊ ၂၇၆) တွင် ခေတ်မီလယ်ယာသုံးစက်ကိရိယာများဖြင့် စိုက်ပျိုးရန် မြေပြင်ခြင်း၊ စိုက်ပျိုးခြင်း၊ ရိတ်သိမ်းခြွေလှေ့ခြင်း၊ လယ်ယာမြေကွက်များ ဖော်ခြင်း၊ ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာ ဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ အဆိုပြုတင်ပြလာသော မြေနေရာသည် လယ်ယာမြေကို အခြားနည်း အသုံးပြုခွင့်ရရှိထားပြီးဖြစ်သည့် ခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်ရန်ဖြစ်ကြောင်း နှင့် ကန့်ကွက်ရန်မရှိပါ ကြောင်း ပြန်ကြားအပ်ပါသည်။

(signature) 2.3.16

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စက်မှုလယ်ယာဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန
- ဒုတိယဝန်ကြီး(လယ်ယာ/ ဆည်မြောင်း) ၏ ကိုယ်ရေးအရာရှိ
- ရုံးလက်ခံ/ မျှောစာတွဲ